## Eternal Technical Supporting Co., Ltd. မှ တင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

### ပညာရေးဝန်ဆောင်မှုလုပ်ငန်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ ကုမ္ပဏီမှ တင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်း | ၅-၉-၂၀၁၈ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေးသို့တင်ပြခြင်း | ၂၇/၂၀၁၈<br>(၁၀-၉-၂၀၁၈) | | |
| ၃ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း<br>- ပညာရေးဝန်ကြီးဌာန<br>- ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | <br><br>၁၉-၉-၂၀၁၈<br>၁၉-၉-၂၀၁၈ | <br><br>၂၅-၉-၂၀၁၈<br>၁-၁၀-၂၀၁၈ | |
| ၄ | အဆိုပြုချက်အား လက်ခံကြောင်း ပြန်ကြားခြင်း | ၁၈-၉-၂၀၁၈ | | |
| ၅ | အဆိုပြုချက်အား ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၇/၂၀၁၈<br>(၁၂-၁၀-၂၀၁၈) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၃၇) ရက်** | | |

အကြောင်းအရာ။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co., Ltd. (ထာဝရနည်းပညာထောက်ပံ့ရေးကုမ္ပဏီလီမိတက်) မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာတင်ထားလွှာ တင်ပြခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br><br>ရင်းနှီးမြှုပ်နှံသူ<br>ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန်<br>လုပ်ငန်းအမျိုးအစား | - Eternal Technical Supporting Co., Ltd.<br>(ထာဝရနည်းပညာထောက်ပံ့ရေးကုမ္ပဏီလီမိတက်)<br>- ဦးထင်ကျော်<br>- မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ပညာရေးဝန်ဆောင်မှုလုပ်ငန်း |
| ၂။ | တည်နေရာ | - အမှတ်(၂၄)၊ မြေကွက်အမှတ်-၈-/$C^{၁}$/၁-$A^{၂}$+$၂^{A}$/B၊ မြေတိုင်းရပ်ကွက်အမှတ်- ၈၃+၈၄၊ ဆည်မြောင်းလမ်း၊ (၁၁) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အဦအရေအတွက်<br><br><br><br><br><br><br><br>မြေ/အဆောက်အဦငှားရမ်းခ<br>မြေ/အဆောက်အဦငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ဦးတိုးနိုင်မန်း<br>- ၂.၀၈၇ ဧက<br>- စုစုပေါင်း ၇ လုံး<br>(၁၅၈ ပေ × ၁၉၃ ပေ) ၃ ထပ် အဆောက်အဦ ၁ လုံး<br>(၄၂ ပေ × ၁၂ ပေ) ၁ ထပ် အဆောက်အဦ ၁ လုံး<br>(၃၁ ပေ × ၁၇ ပေ) ၁ ထပ် အဆောက်အဦ ၁ လုံး<br>(၄၀ ပေ × ၆၃ ပေ) ၂ ထပ် အဆောက်အဦ ၁ လုံး<br>(၁၄၂ ပေ × ၁၇ ပေ) ၁ ထပ် အဆောက်အဦ ၁ လုံး<br>(၁၄၇ ပေ × ၃၁ ပေ) ၁ ထပ် အဆောက်အဦ ၁ လုံး<br>(၁၃၂ ပေ × ၃၁ ပေ) ၁ ထပ် အဆောက်အဦ ၁ လုံး<br>- ကျပ် ၆၀၀ သန်း<br><br>- ကနဦး ၅ နှစ် (၅ နှစ် ၂ ကြိမ် သက်တမ်းတိုး) |
| ၄။ | ရင်းနှီးမြှုပ်နှံပြုလုပ်လိုသည့်<br>သက်တမ်း | - - |
| ၅။ | တည်ဆောက်မှုကာလ/<br>ပြင်ဆင်မှုကာလ | - ၆ လ |

| | | |
|---|---|---|
| ၆။ | စုစုပေါင်းမတည်ငွေရင်း<br>**ထည့်ဝင်မည့်အမျိုးအစား**<br>ငွေသား<br>ပရိဘောဂနှင့် လုပ်ငန်းသုံး<br>ပစ္စည်း<br>**စုစုပေါင်း** | - ကျပ် ၂,၉၁၇.၄၁ သန်း<br>**ကျပ် (သန်း)**<br>၂,၂၈၂.၀၉<br><br>၆၃၅.၃၂<br>**၂,၉၁၇.၄၁** |
| ၇။ | နှစ်စဉ်ဝန်ဆောင်မှု | (table below) |
| ၈။ | ဝန်ထမ်းခန့်ထားမှု<br>သင်ကြားရေး<br><br><br><br><br>စီမံခန့်ခွဲရေး | (see below) |
| ၉။ | အခြားတင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် Eternal Technical Supporting Co., Ltd. အမည်ဖြင့် ၂၇-၈-၂၀၁၈ ရက်စွဲတွင် ကျပ် ၃၂,၅၃၁,၄၅၀.၀၀ ရှိကြောင်း တင်ပြထားပါသည်။<br>- Eternal Technical Supporting Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများနှင့် သင်ရိုးညွှန်းတမ်းတို့အား တင်ပြထားပါသည်။ |

၇။ နှစ်စဉ်ဝန်ဆောင်မှု

| စဉ် | အမျိုးအမည် | ကာလ | ကျောင်းသား ဦးရေ | ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်) |
|---|---|---|---|---|
| (က) | Nursery | ၁ နှစ် | ၁၀ | ၅,၅၀၀ |
| (ခ) | Reception | ၁ နှစ် | ၁၅ | ၆,၀၀၀ |
| (ဂ) | Level 1 | ၁ နှစ် | ၂၀၄ | ၉,၆၀၀ |
| (ဃ) | Level 2 | ၁ နှစ် | ၉၉ | ၁၀,၆၀၀ |
| (င) | Level 3 | ၁ နှစ် | ၁၀၅ | ၁၃,၀၀၀ |
| (စ) | SPLD (Pre-school) | ၁ နှစ် | ၁ | ၅,၉၀၀ |
| (ဆ) | SPLD (Primary) | ၁ နှစ် | ၁၅ | ၉,၂၀၀ |
| (ဇ) | SPLD (Secondary) | ၁ နှစ် | ၃ | ၁၀,၂၀၀ |
| (ဈ) | SPLD (ASDAN) | ၁ နှစ် | ၆ | ၁၂,၅၀၀ |

၈။ ဝန်ထမ်းခန့်ထားမှု

သင်ကြားရေး

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **ဦးရေ** | ၅၂ ဦး | ၄၀ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၅၀၀,၀၀၀ | အမေရိကန်ဒေါ်လာ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၂၅၀,၀၀၀ | ၃,၃၀၀ |

စီမံခန့်ခွဲရေး

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **ဦးရေ** | ၅၅ ဦး | - |
| **အမြင့်ဆုံးလစာ** | ကျပ် ၆၀၀,၀၀၀ | |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | |

| | | |
|---|---|---|
| | | - Myanmar International School Yangon အမည်ဖြင့် Nursery မှ A Level အထိ နိုင်ငံတကာ သင်ရိုးညွှန်းတမ်းဖြင့် သင်ကြားမည်ဖြစ်ကြောင်း တင်ပြထားပါ သည်။<br>- Myanmar International School Yangon သည် အင်္ဂလန်နိုင်ငံ University of Cambridge မှ Cambridge Assessment International Education စာစစ်ဌာနတစ်ခုဖြစ်ကြောင်း တင်ပြထားပါသည်။<br>- Myanmar International School Yangon မှ Year13 အောင်မြင်ပြီးသော ကျောင်းသား/သူများ ဝင်ခွင့်ရသည့် နိုင်ငံတကာရှိတက္ကသိုလ်များအား တင်ပြထားပါသည်။<br>- Myanmar International School Yangon တွင် သင်ကြားသည့် သင်ရိုးညွှန်းတမ်းနှင့် သင်ကြားပေးမည့်အစီအစဉ်များအား တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အမျိုးသားပညာရေးဥပဒေ (၂၀၁၄)၊ အမျိုးသားပညာရေးဥပဒေ ပြင်ဆင်ချက် (၂၀၁၅) နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့် National Assessment Policy တို့အား လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးတိုးနိုင်မန်းနှင့် ကုမ္ပဏီတို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ် တင်ပြထားပါသည်။ |
| ၁၀။ | စိစစ်တင်ပြချက် | - ကုမ္ပဏီသည် Myanmar International School Yangon အမည်ဖြင့် ၂၀၀၉ ခုနှစ်ကပင် စတင်တည်ထောင်ခဲ့ပြီး ရန်ကုန်တိုင်းဒေသကြီးတွင် လုပ်ငန်းများ ဆောင်ရွက်ခဲ့ပါသည်။<br>- ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အားဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေးအစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။ |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၅(အ)/ခ-၁၁၉/ ၂၀၁၈(၃၄၃)
ရက်စွဲ၊ ၂၀၁၈ ခုနှစ် အောက်တိုဘာ လ ၅ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co., Ltd.မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာကော်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co., Ltd. မှ အမှတ် (၂၄)၊ မြေကွက်အမှတ်-၈-/C$^{၁}$/၁-A$^{၂}$+၂$^{A}$/B၊ မြေတိုင်းရပ်ကွက်အမှတ်-၈၃+၈၄၊ ဆည်မြောင်းလမ်း၊ (၁၁) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂.၀၈၇ ဧကတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာကော်ထားလွှာ တင်ပြလာပါသည်။

၂။ အဆိုပြုလွှာကော်ထားလွှာနှင့်အတူ Eternal Technical Supporting Co., Ltd. ၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဝန်ထမ်းများ၏ သက်သာချောင်ချိရေးအစီအစဉ်၊ Layout Plan၊ ဆရာ/မများ၏ ပညာအရည်အချင်း အထောက်အထားများ၊ သင်ရိုးညွှန်းတမ်း၊ မြေပိုင်ရှင် ဦးတိုနိုင်မန်းနှင့် ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်းစာချုပ်(မူကြမ်း)နှင့် မြေပိုင်ဆိုင်မှု အထောက်အထားများကို ပူးတွဲတင်ပြထားပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၆ လ ဖြစ်ပြီး စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ် ၂,၉၁၇.၄၁ သန်း ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **ထည့်ဝင်မည့်အမျိုးအစား** | **စုစုပေါင်း ကျပ်(သန်း)** |
|---|---|
| ငွေသား | ၂,၂၈၂.၀၉ |
| ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်း | ၆၃၅.၃၂ |
| **စုစုပေါင်း** | **၂,၉၁၇.၄၁** |

၄။ လုပ်ငန်းဆောင်ရွက်ရန် သင်ကြားရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၅၂ ဦး ပြည်ပဝန်ထမ်း ၄၀ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၂၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ကျပ် ၅၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်း၏လစာမှာ အမေရိကန်ဒေါ်လာ ၃,၃၀၀ ဖြစ်ပါသည်။ စီမံခန့်ခွဲရေးပိုင်းတွင် ပြည်တွင်းဝန်ထမ်း ၅၅ ဦး ခန့်ထားမည်ဖြစ်ပါ

သည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ ၆၀၀,၀၀၀ ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ဝန်ဆောင်မှုပေးမည့် သင်တန်းများနှင့် ဝန်ဆောင်ခနှုန်းတို့မှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| **စဉ်** | **အမျိုးအမည်** | **ကာလ** | **ကျောင်းသား ဦးရေ** | **ဝန်ဆောင်ခနှုန်း (US$/တစ်နှစ်)** |
|---|---|---|---|---|
| (က) | Nursery | ၁ နှစ် | ၁၀ | ၅,၅၀၀ |
| (ခ) | Reception | ၁ နှစ် | ၁၅ | ၆,၀၀၀ |
| (ဂ) | Level 1 | ၁ နှစ် | ၂၀၄ | ၉,၆၀၀ |
| (ဃ) | Level 2 | ၁ နှစ် | ၉၉ | ၁၀,၆၀၀ |
| (င) | Level 3 | ၁ နှစ် | ၁၀၅ | ၁၃,၀၀၀ |
| (စ) | SPLD (Pre-school) | ၁ နှစ် | ၁ | ၅,၉၀၀ |
| (ဆ) | SPLD (Primary) | ၁ နှစ် | ၁၅ | ၉,၂၀၀ |
| (ဇ) | SPLD (Secondary) | ၁ နှစ် | ၃ | ၁၀,၂၀၀ |
| (ဈ) | SPLD (ASDAN) | ၁ နှစ် | ၆ | ၁၂,၅၀၀ |

၆။ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဝန်ကြီးဌာန၊ အဖွဲ့အစည်းများသို့ သဘောထားမှတ်ချက်များ တောင်းခံခဲ့ရာ အောက်ပါအတိုင်း ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ၂၀၁၈ ခုနှစ် စက်တင်ဘာလ ၂၇ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် ၃၇/၂၀၁၈၊ ဆုံးဖြတ်ချက်အပိုဒ် ၄၆အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခဲ့ပါသည်။

(ခ) **ပညာရေးဝန်ကြီးဌာန** **(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ဥပဒေ၊ နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါကပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်းနှင့် ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက်ဆောင်ရွက် ပေးသွားမည်ဖြစ်ပါကြောင်း သဘောထားပြန်ကြားခဲ့ပါသည်။

၇။ ငွေကြေးအထောက်အထားအဖြစ် KBZ Bank တွင် Eternal Technical Supporting Co., Ltd. အမည်ဖြင့် ၂၇-၈-၂၀၁၈ရက်စွဲတွင် ကျပ် ၃၂,၃၅၁,၄၅၁.၀၀ ရှိကြောင်းတင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက် (မူကြမ်း) အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း၏ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးအစီအစဉ်များနှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို တင်ပြထားပါသည်။

(ဂ) Myanmar International School Yangon အမည်ဖြင့် ၂၀၀၉ ခုနှစ်မှ စတင်တည်ထောင်ခဲ့ပြီး လုပ်ငန်းများ ဆောင်ရွက်လျက်ရှိပါသည်။

**ဆုံးဖြတ်ရန်အချက်**

၉။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co., Ltd.မှ ရန်ကုန်တိုင်းဒေသကြီးတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလျှောက်ထားလွှာ တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ




**နောက်ဆက်တွဲ-က**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊၂၀၁၈ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၁.၉.၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၁၉ / ၂၀၁၈ (၃၂၀)

2-17-53
2-10-18

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co.,Ltd (ထာဝရနည်းပညာထောက်ပံ့ရေးကုမ္ပဏီလီမိတက်)မှ အမှတ်(၂၄)၊ ဆည်မြောင်းလမ်း၊ (၁၁) ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂.၀၈၇ ဧကတွင် ပညာရေးဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၂၇.၉.၂၀၁၈ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၈)၊ ဆုံးဖြတ်ချက်အပိုဒ်(၄၆)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမျိုး၊ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

**မိတ္တူကို**

တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ရန်ကင်းမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Eternal Technical Supporting Co.,Ltd
လက်ခံစာတွဲ
မျှောစာတွဲ

D/2018/Cabinet 34(4)

| ဝင်စာအမှတ် | M4-0962 |
| --- | --- |
| ရက်စွဲ | 27.9.2018 |

NO-3726
26.9.18



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## ပညာရေးဝန်ကြီးဌာန
## ဝန်ကြီးရုံး

စာအမှတ် ၊ မူဝါဒ(သဘောထားမှတ်ချက်)၁၉၅၅/၂၀၁၈(၁၅၂၅၂)
ရက်စွဲ ၊ ၂၀၁၈ ခုနှစ်၊ စက်တင်ဘာလ ( ၂၅ )ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်းကိစ္စ**

ရည် ညွှန်း ချက်။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၀-၉-၂၀၁၈)ရက်စွဲပါစာအမှတ်၊ မရက - ၅ (အ) / ခ - ၀၁၉ / ၂၀၁၈ (၃၁၉)

(၂) ပညာရေးဝန်ကြီးဌာန၏ ၁၃-၇-၂၀၁၈ ရက်စွဲပါစာအမှတ်၊ စီမံကိန်း (MIC)/ ၂၀၁၈(၁၀၅၇၁)

၁။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Eternal Technical Supporting Co., Ltd. (ထာဝရ နည်းပညာထောက်ပံ့ရေးကုမ္ပဏီလီမိတက်)မှ အမှတ်(၂၄)၊ ဆည်မြောင်းလမ်း၊ (၁၁)ရပ်ကွက်၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးရှိ မြေ ၂.၀၈၇ ဧကတွင် ပညာရေးဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက်ပေးနိုင်ပါရန် ရည်ညွှန်း(၁)ပါစာဖြင့် မေတ္တာ ရပ်ခံလာပါသည်။

၂။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အောက်ပါအချက်များနှင့် ကိုက်ညီမှုရှိ-မရှိ စိစစ်ဆောင်ရွက်ပြီး ပညာရေးဝန်ကြီးဌာနတွင် မှတ်ပုံတင်နိုင်ရေး ဆက်လက် ဆောင်ရွက် ပေးသွားမည်ဖြစ်ပါကြောင်း ပညာရေးဝန်ကြီးဌာနမှ ရည်ညွှန်း(၂)ပါစာဖြင့် ပေးပို့ခဲ့ပြီး ဖြစ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံသူ/ အဖွဲ့အစည်း၏ နိုင်ငံသားဖြစ်မှု (မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ခ) ရင်းနှီးမြှုပ်နှံမှုပုံစံ၊

(ကက) နိုင်ငံသား၊

(ခခ) နိုင်ငံသားနှင့်နိုင်ငံခြားသားဖက်စပ်

(ဂဂ) နိုင်ငံခြားသား၊

(ဂ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်း/သင်တန်းအမျိုးအစား

(ဃ) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်အမျိုးအစားများနှင့် အသိအမှတ်ပြုသည့် အဖွဲ့အစည်း၊

(င) ပေးအပ်မည့် သင်တန်းဆင်းလက်မှတ်၊ အသိအမှတ်ပြုလက်မှတ်၊ အောင်လက်မှတ်၊ ဒီပလိုမာ၊ ဘွဲ့လက်မှတ်များ၏ နမူနာပုံစံ၊

(စ) သင်ရိုးညွှန်းတမ်းနှင့် သင်ရိုးမာတိကာအမျိုးအစား (အမျိုးသားသင်ရိုးညွှန်းတမ်း သို့မဟုတ် အပြည်ပြည်ဆိုင်ရာသင်ရိုးညွှန်းတမ်း)၊

(ဆ) ပုဂ္ဂလိကကျောင်း၏ အုပ်ချုပ်ရေး၊ စီမံခန့်ခွဲရေး၊ သင်ကြားရေးဆိုင်ရာကိစ္စများကို တာဝန်ခံဆောင်ရွက်သောပုဂ္ဂိုလ် သို့မဟုတ် အဖွဲ့အစည်းဝင်များ၏ ပညာအရည်အချင်း အထောက်အထား၊

(ဇ) ပုဂ္ဂလိကကျောင်း၏ အတန်းများတွင် ဘာသာရပ်အလိုက် သင်ကြားမည့် ပုဂ္ဂလိက ကျောင်းဆရာများ၏ဘွဲ့လက်မှတ်၊ အထောက်အထားများ၊ သင်ကြားရေး အတွေ့အကြုံ များနှင့်ကိုယ်ရေးအကျဉ်း၊

(ဈ) ကျောင်းဆရာ၏ နိုင်ငံသားဖြစ်မှု ( မြန်မာနိုင်ငံသား သို့မဟုတ် နိုင်ငံခြားသား)၊

(ည) ပုဂ္ဂလိကကျောင်း၏ ဆရာ၊ ဆရာမနှင့် စီမံခန့်ခွဲရေးဝန်ထမ်း လုံလောက်မှု ရှိကြောင်း ဝန်ခံချက်၊

(ဋ) ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် ထားရှိရမည့် ကျောင်းပရိဝုဏ်၊ အဆောက်အအုံ လုံလောက်မှု ရှိ/မရှိနှင့် အသုံးပြုခွင့်ရှိသော အထောက်အထား၊

(ဌ) ပုဂ္ဂလိကကျောင်း ဖွင့်လှစ်ခြင်းနှင့်ပတ်သက်၍ ကန့်ကွက်ရန် မရှိကြောင်း၊ ပုဂ္ဂလိက ကျောင်းတည်ထောင်ဖွင့်လှစ်မည့် ပရိဝုဏ်၏ ဘေးပတ်ဝန်းကျင်တွင် အနီးစပ်ဆုံး နေထိုင်သူအနည်းဆုံး(၁၀)ဦး သဘောတူလက်မှတ်ရေးထိုးထားသည့် အထောက် အထားနှင့် ယင်းအထောက်အထား မှန်ကန်ကြောင်း သက်ဆိုင်ရာ ရပ်ကွက် အုပ်ချုပ်ရေးမှူး၏ ထောက်ခံချက်၊

(၃) ပညာရပ်ဆိုင်ရာဝန်းကျင်ကောင်းရှိ/မရှိ

(ကက) ပုဂ္ဂလိကကျောင်းဝင်း၊ ပတ်ဝန်းကျင်၊ စာသင်ခန်းများ၊ လက်တွေ့ခန်းများ သည်ကျန်းမာရေးနှင့်ညီညွတ်၍ သန့်ရှင်းစင်ကြယ်စေရန် အစီအစဉ်ထားရှိ ခြင်း၊

(ခခ) အရေးပေါ်ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်ထားရှိခြင်း၊

(ဂဂ) ကျောင်းလုံခြုံရေးနှင့် မီးဘေးကာကွယ်ရေးအစီအစဉ်ထားရှိခြင်း၊

(ဃ) ဖွင့်လှစ်မည့် ပုဂ္ဂလိကကျောင်းအမျိုးအစားအလိုက် သက်ဆိုင်ရာ ဝန်ကြီးဌာန၏ သဘောထားမှတ်ချက်၊

(ဏ) အမျိုးသားပညာရေးဥပဒေ၊ တည်ဆဲပညာရေးဆိုင်ရာ ဥပဒေများကို လိုက်နာရန်နှင့် နောင်ထွက်ပေါ်လာမည့် ပညာရေးဥပဒေများနှင့်အညီ လိုက်နာဆောင်ရွက်သွားရန် ကတိပြုဝန်ခံချက်၊

(တ) ပုဂ္ဂလိကကျောင်း၏ ပရိဝုဏ်အတွင်း အရက်သေစာနှင့် မူးယစ်ဆေးဝါး သုံးစွဲခြင်း မရှိစေရေး ကတိဝန်ခံချက်၊

(ထ) ဆရာ၊ ဆရာမနှင့် ကျောင်းသား၊ ကျောင်းသူများ၏ ကာယိန္ဒြေ ထိခိုက်မှု မရှိစေရေး ကတိဝန်ခံချက်၊

၃။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လာရောက်လျှောက်ထားသည့် ကုမ္ပဏီများကို အရည်အသွေးအာမခံမှုရှိသော ပညာရေးဝန်ဆောင်မှုလုပ်ငန်းများအတွက် အထက်ဖော်ပြပါ အပိုဒ်(၂) (က)မှ (ထ)ရှိ အချက်အလက်များဖြင့် မဖြစ်မနေ စိစစ်ရန် လိုအပ်ပါသဖြင့် ပညာရေးဝန်ကြီးဌာနသို့ အောက်ဖော်ပြပါ ပုဂ္ဂိုလ်အား ဆက်သွယ်ဆောင်ရွက်ပါရန် ပြန်ကြားခဲ့ပါသည်-

ဒေါက်တာကျော်နိုင်
ဒုတိယအမြဲတမ်းအတွင်းဝန်
ပညာရေးဝန်ကြီးဌာန
ဖုန်း- ၀၆၇ ၄၀၇၁၁၆
အီးမေးလ် - drkyawnaing2009@gmail.com

၄။ သို့ဖြစ်ပါ၍ အထက်အပိုဒ်(၁)ပါကိစ္စနှင့်စပ်လျဉ်း၍ ပညာရေးဝန်ကြီးဌာနအနေဖြင့် မြန်မာ့ပညာရေးကဏ္ဍတွင် ပုဂ္ဂလိကရင်းနှီးမြှုပ်နှံမှုကို ကြိုဆိုပါကြောင်းနှင့်ပညာရေးဝန်ဆောင်မှုဆိုင်ရာ လုပ်ငန်းများနှင့်ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဥပဒေ၊နည်းဥပဒေ၊စည်းမျဉ်းစည်းကမ်း၊ လုပ်ထုံးလုပ်နည်းများနှင့် ကိုက်ညီပါက ပုဂ္ဂလိကရင်းနှီးမြှုပ်နှံရန် ထောက်ခံပါကြောင်း ပြန်ကြားအပ်ပါသည်။

Kyaw Naing
25-9-18

ဒုတိယဝန်ကြီး (ကိုယ်စား)
( ဒေါက်တာကျော်နိုင်၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို -

ရုံးလက်ခံ / မျှောစာတွဲ

D:\Ni Ni\Ni Ni memo(Aug).docx